# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၁ - သံယောဇနသုတ်

၁၃၁။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ အဘယ်လေးမျိုး တို့နည်း ဟူမူ- ရဟန်းတို့ ဤလောက၌ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ပဋိသန္ဓေရကြောင်း သံယောဇဉ် 'အနှောင်အဖွဲ့'၊ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေးသော ပုဂ္ဂိုလ် တစ်မျိုး။

ရဟန်းတို့ ဤလောက၌ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'ကိုသာပယ်၍ ပဋိသန္ဓေရကြောင်း သံယောဇဉ် 'အနှောင်အဖွဲ့'နှင့် ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေးသော ပုဂ္ဂိုလ် တစ်မျိုး။

ရဟန်းတို့ ဤလောက၌ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'နှင့် ပဋိသန္ဓေရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို ပယ်၍ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေးသော ပုဂ္ဂိုလ် တစ်မျိုး။

ရဟန်းတို့ ဤလောက၌ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ပဋိသန္ဓေရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို ပယ်ပြီးသော ပုဂ္ဂိုလ်တစ်မျိုးတို့တည်း။

ရဟန်းတို့ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ပဋိသန္ဓေရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေးသော ပုဂ္ဂိုလ်ဟူသည် အဘယ်နည်း၊ သကဒါဂါမိပုဂ္ဂိုလ်ပင်တည်း။ ရဟန်းတို့ ဤပုဂ္ဂိုလ်သည် အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ပဋိသန္ဓေ ရကြောင်း သံယောဇဉ် 'အနှောင်အဖွဲ့'၊ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေး။

ရဟန်းတို့ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကိုသာပယ်၍ ပဋိသန္ဓေရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့'နှင့် ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေးသော ပုဂ္ဂိုလ်ဟူသည် အဘယ်နည်း၊ ဥဒ္ဓံသောတအကနိဋ္ဌဂါမီ[၁] (အနာဂါမ်) ပုဂ္ဂိုလ်ပင်တည်း။ ရဟန်းတို့ ဤပုဂ္ဂိုလ်သည် အောက်ပိုင်း သံယောဇဉ် 'အနှောင်အဖွဲ့' တို့ကိုသာ ပယ်၍ ပဋိသန္ဓေရကြောင်း သံယောဇဉ် 'အနှောင် အဖွဲ့' နှင့် ဘဝရကြောင်း သံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေး။

ရဟန်းတို့ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့' နှင့် ပဋိသန္ဓေရကြောင်းသံယောဇဉ် 'အနှောင် အဖွဲ့' တို့ကို ပယ်၍ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေးသော ပုဂ္ဂိုလ် ဟူသည် အဘယ်နည်း၊ အန္တရာပရိနိဗ္ဗာယီ[၂] (အနာဂါမ်) ပုဂ္ဂိုလ်ပင်တည်း။ ရဟန်းတို့ ဤပုဂ္ဂိုလ် သည် အောက်ပိုင်း သံယောဇဉ် 'အနှောင်အဖွဲ့' ပဋိသန္ဓေရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို ပယ်၍ ဘဝရကြောင်း သံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို မပယ်ရသေး။

ရဟန်းတို့ အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ပဋိသန္ဓေရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို ပယ်ပြီးပုဂ္ဂိုလ်ဟူသည် အဘယ်နည်း၊ ရဟန္တာပုဂ္ဂိုလ် ပင်တည်း။ ရဟန်းတို့ ဤပုဂ္ဂိုလ်သည် အောက်ပိုင်းသံယောဇဉ် 'အနှောင်အဖွဲ့'၊ ပဋိသန္ဓေရကြောင်း သံယောဇဉ် 'အနှောင်အဖွဲ့'၊ ဘဝရကြောင်းသံယောဇဉ် 'အနှောင်အဖွဲ့' တို့ကို ပယ်ပြီးဖြစ်၏။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ် လေးမျိုးတို့သည် ထင်ရှားရှိကုန်၏ ဟု (မိန့်တော်မူ၏)။

ပဌမသုတ်။

------

၁။ ဥဒ္ဓံသောတအကနိဋ္ဌဂါမီဟူသည် အထက်၌ ရလတ္တံ့သော အရိယာမဂ်တည်းဟူသော သောတ (အယဉ်) ရှိသော အကနိဋ္ဌဘုံသို့ သွားမည့် အနာဂါမ် ပုဂ္ဂိုလ်တည်း။
၂။ အန္တရာပရိနိဗ္ဗာယီ ဟူသည် အသက်အပိုင်းအခြား အလယ်၌ ပရိနိဗ္ဗာန်ပြုမည့် အနာဂါမ်ပုဂ္ဂိုလ်တည်း။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၂ - ပဋိဘာနသုတ်

၁၃၂။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ အဘယ်လေးမျိုး တို့နည်းဟူမူ- အသင့်ကိုသာ ဖြေဆိုတတ်၍ လျင်စွာ မဖြေဆိုတတ်သော ပုဂ္ဂိုလ်၊ လျင်စွာသာ ဖြေဆို တတ်၍ အသင့်ကို မဖြေဆိုတတ်သော ပုဂ္ဂိုလ်၊ လျင်စွာလည်း ဖြေဆိုတတ် အသင့်လည်း ဖြေဆိုတတ်သော ပုဂ္ဂိုလ်၊ အသင့်လည်း မဖြေဆိုတတ် လျင်စွာလည်း မဖြေဆိုတတ်သော ပုဂ္ဂိုလ်တို့တည်း။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ် လေးမျိုးတို့သည် ထင်ရှားရှိကုန်၏ ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၃ - ဥဂ္ဃဋိတညူသုတ်

၁၃၃။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ အဘယ်လေးမျိုး တို့နည်းဟူမူ- အကျဉ်းပြကာမျှဖြင့် (တရားကို) သိသော (ဥဂ္ဃဋိတညူ) ပုဂ္ဂိုလ်၊ အကျယ်ပြမှ (တရားကို) သိသော (ဝိပဉ္စိတညူ) ပုဂ္ဂိုလ်၊ (ဥဒ္ဒေသစသည်ကို) ဆောင်၍ ပြမှ (တရားကို) သိသော (နေယျ) ပုဂ္ဂိုလ်၊ ပုဒ်မျှသာ အတိုင်းအရှည်ရှိသော (တရားနာယူရုံမျှသာ ဖြစ်၍ ဤဘဝ ဈာန် မဂ် ဖိုလ်ကို မရထိုက်သော ပဒပရမ) ပုဂ္ဂိုလ်တို့တည်း။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ် လေးမျိုး တို့သည် ထင်ရှားရှိကုန်၏ ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၄ - ဥဋ္ဌာနဖလသုတ်

၁၃၄။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ အဘယ်လေးမျိုး တို့နည်း ဟူမူ- ထကြွလုံ့လ၏ အကျိုးကိုသာ မှီ၍ အသက်မွေးလျက် ကံ၏ အကျိုးကိုမှီ၍ အသက် မမွေးသော ပုဂ္ဂိုလ်၊ ကံ၏ အကျိုးကိုသာ မှီ၍ အသက်မွေးလျက် ထကြွလုံ့လ၏ အကျိုးကို မှီ၍ အသက် မမွေးသော ပုဂ္ဂိုလ်၊ ထကြွ လုံ့လ၏ အကျိုးကို မှီ၍လည်း အသက်မွေး, ကံ၏ အကျိုးကို မှီ၍လည်း အသက်မွေးသော ပုဂ္ဂိုလ်၊ ထကြွ လုံ့လ၏ အကျိုးကို မှီ၍လည်း အသက်မမွေး, ကံ၏ အကျိုးကို မှီ၍လည်း အသက် မမွေးသော ပုဂ္ဂိုလ်တို့တည်း။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှား ရှိကုန်၏ ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၅ - သာဝဇ္ဇသုတ်

၁၃၅။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှား ရှိကုန်၏။ အဘယ်လေးမျိုး တို့နည်း ဟူမူ- အပြစ်ရှိသော ပုဂ္ဂိုလ်၊ အပြစ်များသော ပုဂ္ဂိုလ်၊ အပြစ်နည်းသော ပုဂ္ဂိုလ်၊ အပြစ်မရှိသော ပုဂ္ဂိုလ်တို့တည်း။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် အပြစ်ရှိသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အပြစ်ရှိသော ကာယကံနှင့် ပြည့်စုံ၏၊ အပြစ်ရှိသော ဝစီကံနှင့် ပြည့်စုံ၏၊ အပြစ်ရှိသော မနောကံနှင့် ပြည့်စုံ၏၊ ရဟန်းတို့ ဤသို့လျှင် ပုဂ္ဂိုလ်သည် အပြစ်ရှိ၏။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် အပြစ်များသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အပြစ်ရှိသော ကာယကံနှင့် ပြည့်စုံသည်က များ၏၊ အပြစ်မရှိသော ကာယကံနှင့် ပြည့်စုံသည်ကား အနည်းငယ်သာတည်း။ အပြစ်ရှိသော ဝစီကံနှင့် ပြည့်စုံသည်က များ၏၊ အပြစ်မရှိသော ဝစီကံနှင့် ပြည့်စုံသည်ကား အနည်းငယ်သာတည်း။ အပြစ်ရှိသော မနောကံနှင့် ပြည့်စုံသည်က များ၏၊ အပြစ်မရှိသော မနောကံနှင့် ပြည့်စုံသည်ကား အနည်းငယ်သာတည်း။ ရဟန်းတို့ ဤသို့လျှင် ပုဂ္ဂိုလ်သည် အပြစ်များ၏။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် အပြစ်နည်းသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အပြစ်မရှိသော ကာယကံနှင့်ပြည့်စုံသည်က များ၏၊ အပြစ်ရှိသော ကာယကံနှင့် ပြည့်စုံသည်ကား အနည်းငယ်သာတည်း။ အပြစ်မရှိသော ဝစီကံနှင့် ပြည့်စုံသည်က များ၏၊ အပြစ်ရှိသော ဝစီကံနှင့် ပြည့်စုံသည်ကား အနည်းငယ်သာတည်း။ အပြစ်မရှိသော မနောကံနှင့် ပြည့်စုံသည်က များ၏၊

အပြစ်ရှိသော မနောကံနှင့် ပြည့်စုံသည်ကား အနည်းငယ်သာတည်း။ ရဟန်းတို့ ဤသို့လျှင် ပုဂ္ဂိုလ်သည် အပြစ်နည်း၏။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် အပြစ်မရှိသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အပြစ်မရှိသော ကာယကံနှင့် ပြည့်စုံ၏၊ အပြစ်မရှိသော ဝစီကံနှင့် ပြည့်စုံ၏၊ အပြစ်မရှိသော မနောကံနှင့် ပြည့်စုံ၏။ ရဟန်းတို့ ဤသို့လျှင် ပုဂ္ဂိုလ်သည် အပြစ်မရှိ။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ် လေးမျိုးတို့သည် ထင်ရှားရှိကုန်၏ ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

## ၆ - ပဌမ သီလသုတ်

၁၃၆။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ အဘယ်လေးမျိုး တို့နည်း ဟူမူ- ရဟန်းတို့ ဤလောက၌ သီလ သမာဓိ ပညာတို့၌ ဖြည့်ကျင့်လေ့ မရှိသော ပုဂ္ဂိုလ် တစ်မျိုး။ ရဟန်းတို့ ဤလောက၌ သီလကိုသာ ဖြည့်ကျင့်လေ့ရှိ၍ သမာဓိနှင့် ပညာတို့၌ ဖြည့်ကျင့်လေ့ မရှိသော ပုဂ္ဂိုလ်တစ်မျိုး။ ရဟန်းတို့ ဤလောက၌ သီလ သမာဓိတို့၌ ဖြည့်ကျင့်လေ့ရှိ၍ ပညာ၌ ဖြည့်ကျင့်လေ့ မရှိသော ပုဂ္ဂိုလ်တစ်မျိုး။ ရဟန်းတို့ ဤလောက၌ သီလ သမာဓိ ပညာတို့၌ ဖြည့်ကျင့် လေ့ရှိသော ပုဂ္ဂိုလ်တစ်မျိုးတို့တည်း။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှား ရှိကုန်၏ ဟု (မိန့်တော်မူ၏)။

**ဆဋ္ဌသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

## ၇ - ဒုတိယ သီလသုတ်

၁၃၇။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ အဘယ်လေးမျိုး တို့နည်း ဟူမူ- ရဟန်းတို့ ဤလောက၌ သီလ သမာဓိ ပညာတို့ကို အလေးမပြု အကြီးအမျှုးမပြုသော ပုဂ္ဂိုလ် တစ်မျိုး။ ရဟန်းတို့ ဤလောက၌ သီလကိုသာ အလေးပြု အကြီးအမျှုးပြု၍ သမာဓိနှင့် ပညာကို အလေးမပြု အကြီးအမျှုးမပြုသော ပုဂ္ဂိုလ်တစ်မျိုး။ ရဟန်းတို့ ဤလောက၌ သီလနှင့် သမာဓိကို အလေးပြု အကြီးအမျှုးပြု၍ ပညာကို အလေးမပြု အကြီးအမျှုးမပြုသော ပုဂ္ဂိုလ်တစ်မျိုး။ ရဟန်းတို့

ဤလောက၌ သီလ သမာဓိ ပညာကို အလေးပြု အကြီးအမှူးပြုသော ပုဂ္ဂိုလ်တစ်မျိုးတို့တည်း။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ် လေးမျိုးတို့သည် ထင်ရှားရှိကုန်၏ ဟု (မိန့်တော်မူ၏)။

**သတ္တမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၈ - နိကဋ္ဌသုတ်

၁၃၈။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ အဘယ်လေးမျိုး တို့နည်း ဟူမူ- ကိုယ်သာ ကင်း၍ စိတ်မကင်းသော ပုဂ္ဂိုလ်၊ ကိုယ်မကင်းသော်လည်း စိတ်ကင်းသော ပုဂ္ဂိုလ်၊ ကိုယ်လည်းမကင်း စိတ်လည်းမကင်းသော ပုဂ္ဂိုလ်၊ ကိုယ်လည်းကင်း စိတ်လည်းကင်းသော ပုဂ္ဂိုလ်တို့တည်း။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် ကိုယ်သာ ကင်း၍ စိတ်မကင်းသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အစွန်အဖျားကျသော တောကျောင်းတို့ကို မှီဝဲ၍ နေ၏၊ ထို ပုဂ္ဂိုလ်သည် ထို တောကျောင်းတို့၌ ကာမဝိတက်ကိုလည်း ကြံ၏၊ ဗျာပါဒဝိတက်ကိုလည်း ကြံ၏၊ ဝိဟိံသာဝိတက် ကိုလည်း ကြံ၏။ ရဟန်းတို့ ဤသို့လျှင် ကိုယ်သာကင်း၍ စိတ်မကင်းချေ။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် ကိုယ်မကင်းသော်လည်း စိတ်ကင်းသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အစွန်အဖျားကျသော တောကျောင်းတို့ကို မမှီဝဲ၊ ထို ပုဂ္ဂိုလ်သည် ထို ရွာနီးကျောင်း၌ နေက္ခမ္မဝိတက်ကိုလည်း ကြံ၏၊ အဗျာပါဒဝိတက်ကိုလည်း ကြံ၏၊ အဝိဟိံသာဝိတက် ကိုလည်း ကြံ၏။ ရဟန်းတို့ ဤသို့လျှင် ပုဂ္ဂိုလ်သည် ကိုယ်မကင်းသော်လည်း စိတ်ကင်း၏။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် ကိုယ်လည်းမကင်း စိတ်လည်းမကင်းသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အစွန်အဖျားကျသော တောကျောင်းတို့ကို မမှီဝဲ၊ ထို ပုဂ္ဂိုလ်သည် ထို ရွာနီးကျောင်း၌ ကာမဝိတက်ကိုလည်း ကြံ၏၊ ဗျာပါဒဝိတက်ကိုလည်း ကြံ၏၊ ဝိဟိံသာဝိတက် ကိုလည်း ကြံ၏။ ရဟန်းတို့ ဤသို့လျှင် ပုဂ္ဂိုလ်သည် ကိုယ်လည်း မကင်း စိတ်လည်း မကင်းချေ။

ရဟန်းတို့ အဘယ်သို့လျှင် ပုဂ္ဂိုလ်သည် ကိုယ်လည်းကင်း စိတ်လည်းကင်းသနည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အစွန်အဖျားကျသော တောကျောင်းတို့ကို မှီဝဲ၏၊ ထို ပုဂ္ဂိုလ်သည် ထို တောကျောင်းတို့၌ နေက္ခမ္မဝိတက်ကိုလည်း ကြံ၏၊ အဗျာပါဒဝိတက်ကိုလည်း ကြံ၏၊ အဝိဟိံသာဝိတက် ကိုလည်း ကြံ၏။ ရဟန်းတို့ ဤသို့လျှင် ပုဂ္ဂိုလ်သည် ကိုယ်လည်းကင်း စိတ်လည်း ကင်း၏။ ရဟန်းတို့ လောက၌ ဤပုဂ္ဂိုလ် လေးမျိုးတို့သည် ထင်ရှားရှိကုန်၏ဟု (မိန့်တော်မူ၏)။

**အဋ္ဌမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၉ - ဓမ္မကထိကသုတ်

၁၃၉။ ရဟန်းတို့ တရားဟောပုဂ္ဂိုလ်တို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ- ရဟန်းတို့ ဤသာသနာတော်၌ အချို့သော တရားဟောပုဂ္ဂိုလ်သည် အနည်းငယ်မျှကိုလည်း ဟော၏။

အကျိုးစီးပွါးနှင့် မစပ်သည်ကိုလည်း ဟော၏၊ ထို ပုဂ္ဂိုလ်၏ ပရိသတ်သည်လည်း အကျိုး စီးပွါးနှင့် စပ်သည်, မစပ်သည်၌ မလိမ္မာ။ ရဟန်းတို့ ဤသို့သဘောရှိသော တရားဟော ပုဂ္ဂိုလ်သည် ဤသို့ သဘောရှိသော ပရိသတ်၏တရားဟော ပုဂ္ဂိုလ်ဟူ၍သာလျှင် ရေတွက်ခြင်းသို့ ရောက်၏။

ရဟန်းတို့ ဤသာသနာတော်၌ အချို့သော တရားဟော ပုဂ္ဂိုလ်သည် အနည်းငယ်မျှကိုလည်း ဟော၏။ အကျိုးစီးပွါးနှင့် စပ်သည်ကိုလည်း ဟော၏၊ ထို ပုဂ္ဂိုလ်၏ ပရိသတ်သည်လည်း အကျိုးစီးပွါး နှင့် စပ်သည်, မစပ်သည်၌ လိမ္မာ၏၊ ရဟန်းတို့ ဤသို့သဘောရှိသော တရားဟောပုဂ္ဂိုလ်သည် ဤသို့ သဘောရှိသော ပရိသတ်၏တရားဟော ပုဂ္ဂိုလ်ဟူ၍သာလျှင် ရေတွက်ခြင်းသို့ ရောက်၏။

ရဟန်းတို့ ဤသာသနာတော်၌ အချို့သော တရားဟော ပုဂ္ဂိုလ်သည် များစွာလည်း ဟော၏၊ အကျိုးစီးပွါးနှင့် မစပ်သည်ကိုလည်း ဟော၏၊ ထို ပုဂ္ဂိုလ်၏ ပရိသတ်သည်လည်း အကျိုးစီးပွါး နှင့်စပ်သည်, မစပ်သည်၌ မလိမ္မာ။ ရဟန်းတို့ ဤသို့သဘောရှိသော တရားဟောပုဂ္ဂိုလ်သည် ဤသို့ သဘောရှိသော ပရိသတ်၏တရားဟော ပုဂ္ဂိုလ်ဟူ၍သာလျှင် ရေတွက်ခြင်းသို့ ရောက်၏။

ရဟန်းတို့ ဤသာသနာတော်၌ အချို့သော တရားဟော ပုဂ္ဂိုလ်သည် များစွာလည်း ဟော၏၊ အကျိုးစီးပွါးနှင့် စပ်သည် ကိုလည်း ဟော၏၊ ထို ပုဂ္ဂိုလ်၏ ပရိသတ်သည်လည်း အကျိုးစီးပွါးနှင့် စပ်သည်, မစပ်သည်၌ လိမ္မာ၏။ ရဟန်းတို့ ဤသို့သဘောရှိသော တရားဟောပုဂ္ဂိုလ်သည် ဤသို့ သဘောရှိသော ပရိသတ်၏တရားဟော ပုဂ္ဂိုလ်ဟူ၍သာလျှင် ရေတွက်ခြင်းသို့ ရောက်၏။ ရဟန်းတို့ တရားဟော ပုဂ္ဂိုလ်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

## === (၁၄) ၄ - ပုဂ္ဂလဝဂ် ===

### ၁၀ - ဝါဒီသုတ်

၁၄၀။ ရဟန်းတို့ ပြောဆိုလေ့ရှိသော ပုဂ္ဂိုလ်တို့သည် ဤလေးမျိုးတို့တည်း။ အဘယ် လေးမျိုးတို့နည်း ဟူမူ- အနက်အားဖြင့်သာ ကုန်ခြင်းသို့ ရောက်၍ သဒ္ဒါအားဖြင့်ကား ကုန်ခြင်းသို့ မရောက်ဘဲ ပြောဆိုလေ့ ရှိသော ပုဂ္ဂိုလ်သည် ရှိ၏၊ သဒ္ဒါအားဖြင့်သာ ကုန်ခြင်းသို့ ရောက်၍ အနက်အားဖြင့်ကား ကုန်ခြင်းသို့ မရောက်ဘဲ ပြောဆိုလေ့ရှိသော ပုဂ္ဂိုလ်သည် ရှိ၏၊ အနက်အားဖြင့်လည်းကောင်း၊ သဒ္ဒါအားဖြင့် လည်းကောင်း ကုန်ခြင်းသို့ ရောက်၍ ပြောဆိုလေ့ရှိသော ပုဂ္ဂိုလ်သည် ရှိ၏၊ အနက်အားဖြင့်လည်းကောင်း၊ သဒ္ဒါအားဖြင့်လည်းကောင်း ကုန်ခြင်းသို့ မရောက်မူ၍ ပြောဆိုလေ့ရှိသော ပုဂ္ဂိုလ်သည် ရှိ၏။ ရဟန်းတို့ ပြောဆိုလေ့ရှိကုန်သော ပုဂ္ဂိုလ်တို့သည် ဤလေးမျိုးတို့တည်း။ ရဟန်းတို့ ပဋိသမ္ဘိဒါ လေးပါးတို့နှင့် ပြည့်စုံသော ပုဂ္ဂိုလ်သည် အနက်အားဖြင့်လည်းကောင်း၊ သဒ္ဒါအားဖြင့်လည်းကောင်း ကုန်ခြင်းသို့ ရောက်ရာသောအကြောင်း အခွင့်မရှိချေ ဟု (မိန့်တော်မူ၏)။

ဒသမသုတ်။

လေးခုမြောက် ပုဂ္ဂလဝဂ် ပြီး၏။

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၁ - အာဘာသုတ်

၁၄၁။ ရဟန်းတို့ အရောင်တို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ- လရောင်၊ နေရောင်၊ မီးရောင်၊ ပညာရောင်တို့တည်း။ ရဟန်းတို့ အရောင်တို့သည် ဤလေးမျိုးတို့တည်း။ ရဟန်းတို့ ဤအရောင်လေးမျိုးတို့တွင် ပညာရောင်သည် အမြတ်ဆုံးတည်း ဟု (မိန့်တော်မူ၏)။

**ပဌမသုတ်။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၂ - ပဘာသုတ်

၁၄၂။ ရဟန်းတို့ ရောင်ခြည်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- လရောင်ခြည်၊ နေရောင်ခြည်၊ မီးရောင်ခြည်၊ ပညာရောင်ခြည်တို့တည်း။ ရဟန်းတို့ ရောင်ခြည်တို့သည် ဤလေးမျိုး တို့တည်း။ ရဟန်းတို့ ဤရောင်ခြည် လေးမျိုးတို့တွင် ပညာရောင်ခြည်သည် အမြတ်ဆုံး တည်း ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၃ - အာလောကသုတ်

၁၄၃။ ရဟန်းတို့ အလင်းတို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- လအလင်း၊ နေအလင်း၊ မီးအလင်း၊ ပညာအလင်းတို့တည်း။ ရဟန်းတို့ အလင်းတို့သည် ဤလေးမျိုး တို့တည်း။ ရဟန်းတို့ ဤအလင်းလေးမျိုးတို့တွင် ပညာအလင်းသည် အမြတ်ဆုံးတည်းဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၄ - ဩဘာသသုတ်

၁၄၄။ ရဟန်းတို့ အလင်းရောင်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- လအလင်းရောင်၊ နေအလင်းရောင်၊ မီးအလင်းရောင်၊ ပညာအလင်းရောင်တို့တည်း။ ရဟန်းတို့ အလင်းရောင်တို့သည် ဤလေးမျိုး တို့တည်း။ ရဟန်းတို့ ဤအလင်းရောင်လေးမျိုးတို့တွင် ပညာအလင်းရောင်သည် အမြတ်ဆုံးတည်း ဟု (မိန့်တော်မူ၏)။

စတုတ္ထသုတ်။

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၅ - ပဇ္ဇောတသုတ်

၁၄၅။ ရဟန်းတို့ ရောင်လျှံတို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- လရောင်လျှံ၊ နေရောင်လျှံ၊ မီးရောင်လျှံ၊ ပညာရောင်လျှံတို့တည်း။ ရဟန်းတို့ ရောင်လျှံတို့သည် ဤလေးမျိုးတို့တည်း။ ရဟန်းတို့ ဤရောင်လျှံလေးမျိုးတို့တွင် ပညာရောင်လျှံသည် အမြတ်ဆုံးတည်းဟု (မိန့်တော်မူ၏)။

ပဉ္စမသုတ်။

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၆ - ပဌမ ကာလသုတ်

၁၄၆။ ရဟန်းတို့ (သင့်လျော်သော) အခါတို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- အခါအားလျော်စွာ တရားနာခြင်း၊ အခါအားလျော်စွာတရားကို ဆွေးနွေးခြင်း၊ အခါ အားလျော်စွာ တရားကို သုံးသပ်ခြင်း၊ အခါအားလျော်စွာ ဝိပဿနာရှုခြင်းတို့တည်း၊ ရဟန်းတို့ အခါတို့သည် ဤ လေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

ဆဋ္ဌသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၅) ၅ - အာဘာဝဂ် ===

### ၇ - ဒုတိယ ကာလသုတ်

၁၄၇။ ရဟန်းတို့ ကောင်းစွာ ပွါးများအပ်သော် ကောင်းစွာ ဖြစ်စေအပ်သော် အစဉ်အားဖြင့် အာသဝေါ တရားတို့၏ ကုန်ခြင်းသို့ ရောက်စေတတ်သော အခါတို့သည် ဤလေးမျိုးတို့တည်း။ အဘယ် လေးမျိုးတို့နည်း ဟူမူ- အခါအားလျော်စွာတရားကို နာခြင်း၊ အခါအားလျော်စွာတရားကို ဆွေးနွေးခြင်း၊ အခါအားလျော်စွာတရားကို သုံးသပ်ခြင်း၊ အခါအားလျော်စွာ ဝိပဿနာရှုခြင်းတို့တည်း။ ရဟန်းတို့ ကောင်းစွာ ပွါးများအပ်သော် ကောင်းစွာ ဖြစ်စေအပ်သော် အစဉ်အားဖြင့် အာသဝေါတရားတို့၏ ကုန်ခြင်းသို့ ရောက်စေတတ်သော အခါတို့သည် ဤလေးမျိုးတို့တည်း။

ရဟန်းတို့ တောင်ထိပ်၌ မိုးကြီးသည်းထန်စွာ ရွာသွန်းလတ်သော် ထို မိုးရေသည် ချိုင့်ဝှမ်းရာသို့ စီး၍ တောင် ချောက် ရှိုမြောင် ထုံးအိုင်ငယ် ထုံးအိုင်ကြီး မြစ်ငယ် မြစ်ကြီး သမုဒ္ဒရာ ပင်လယ်တို့ကို အဆင့်ဆင့် ပြည့်စေသကဲ့သို့၊ ရဟန်းတို့ ဤအတူသာလျှင် ဤအခါလေးမျိုးတို့သည် ကောင်းစွာ ပွါးများ အပ်သော် ကောင်းစွာ ဖြစ်စေအပ်သော် အစဉ်အားဖြင့် အာသဝေါတရားတို့၏ ကုန်ခြင်းသို့ ရောက်စေ ကုန်၏ ဟု (မိန့်တော်မူ၏)။

**သတ္တမသုတ်။**

------


# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၅) ၅ - အာဘာဝဂ် ===


### ၈ - ဒုစ္စရိတသုတ်

၁၄၈။ ရဟန်းတို့ ဝစီဒုစရိုက်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- မဟုတ်မမှန် ပြောခြင်း၊ ကုန်းချောခြင်း၊ ကြမ်းတမ်းသော စကားဆိုခြင်း၊ ပြိန်ဖျင်းသော စကားကို ဆိုခြင်းတို့တည်း။ ရဟန်းတို့ ဝစီဒုစရိုက်တို့သည် ဤလေးမျိုးတို့တည်းဟု (မိန့်တော်မူ၏)။

**အဋ္ဌမသုတ်။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၉ - သုစရိတသုတ်

၁၄၉။ ရဟန်းတို့ ဝစီသုစရိုက်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- အမှန်ကို ပြောခြင်း၊ ကုန်းမချောခြင်း၊ သိမ်မွေ့သော စကားကို ပြောဆိုခြင်း၊ ပညာဖြင့် ပိုင်းခြား၍ စကားကို ပြောဆိုခြင်းတို့တည်း။ ရဟန်းတို့ ဝစီသုစရိုက်တို့သည် ဤလေးမျိုးတို့တည်းဟု (မိန့်တော်မူ၏)။

**နဝမသုတ်။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၅) ၅ - အာဘာဝဂ် ===

### ၁၀ - သာရသုတ်

၁၅၀။ ရဟန်းတို့ အနှစ်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- သီလ အနှစ်၊ သမာဓိအနှစ်၊ ပညာအနှစ်၊ ဝိမုတ္တိ (အရဟတ္တဖိုလ်) အနှစ်တို့တည်း။ ရဟန်းတို့ အနှစ်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**ငါးခုမြောက် အာဘာဝဂ် ပြီး၏။**

**တတိယ သုတ်ငါးဆယ် ပြီး၏။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## ၄ - စတုတ္ထပဏ္ဏာသက (စတုတ္ထသုတ်ငါးဆယ်)

### === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၁ - ဣန္ဒြိယသုတ်

၁၅၁။ ရဟန်းတို့ ဣန္ဒြေတို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- သဒ္ဓိန္ဒြေ ဝီရိယိန္ဒြေ သတိန္ဒြေ သမာဓိန္ဒြေ တို့တည်း။ ရဟန်းတို့ ဣန္ဒြေတို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

ပဌမသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၂ - သဒ္ဓါဗလသုတ်

၁၅၂။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- သဒ္ဓါဗိုလ် ဝီရိယဗိုလ် သတိဗိုလ် သမာဓိဗိုလ်တို့တည်း။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

ဒုတိယသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၃ - ပညာဗလသုတ်

၁၅၃။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- ပညာဗိုလ် ဝီရိယဗိုလ် အနဝဇ္ဇဗိုလ် သင်္ဂဟဗိုလ်တို့တည်း။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

တတိယသုတ်။

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၄ - သတိဗလသုတ်

၁၅၄။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- သတိဗိုလ် သမာဓိဗိုလ် အနဝဇ္ဇဗိုလ် သင်္ဂဟဗိုလ်တို့တည်း။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

**စတုတ္ထသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၅ - ပဋိသင်္ခါနဗလသုတ်

၁၅၅။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- ပဋိသင်္ခါနဗိုလ် ဘာဝနာဗိုလ် အနဝဇ္ဇဗိုလ် သင်္ဂဟဗိုလ်တို့တည်း။ ရဟန်းတို့ ဗိုလ်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

**ပဉ္စမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၆ - ကပ္ပသုတ်

၁၅၆။ ရဟန်းတို့ ကမ္ဘာ၏ အသင်္ချေတို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ- ရဟန်းတို့ ကမ္ဘာပျက်ဆဲ 'သံဝဋ္ဋကပ်' အခါကို "ဤမျှလောက် နှစ်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အရာတို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အထောင်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အသိန်းတို့" ဟူ၍ လည်းကောင်း ရေတွက်ခြင်းငှါ မလွယ်။

ရဟန်းတို့ ကမ္ဘာပျက်အတိုင်း တည်နေဆဲ 'သံဝဋ္ဋဋ္ဌာယီကပ်' အခါကို "ဤမျှလောက် နှစ်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အရာတို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အထောင်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အသိန်းတို့" ဟူ၍ လည်းကောင်း ရေတွက်ခြင်းငှါ မလွယ်။

ရဟန်းတို့ ကမ္ဘာဖြစ်ဆဲ 'ဝိဝဋ္ဋကပ်' အခါကို "ဤမျှလောက် နှစ်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အရာတို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အထောင်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အသိန်းတို့" ဟူ၍ လည်းကောင်း ရေတွက်ခြင်းငှါ မလွယ်။

ရဟန်းတို့ ဖြစ်ပြီးကမ္ဘာ၏ တည်ဆဲ 'ဝိဝဋ္ဋဋ္ဌာယီကပ်' အခါကို "ဤမျှလောက် နှစ်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အရာတို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အထောင်တို့" ဟူ၍ လည်းကောင်း၊ "ဤမျှလောက် နှစ်အသိန်းတို့" ဟူ၍ လည်းကောင်း ရေတွက်ခြင်းငှါ မလွယ်။ ရဟန်းတို့ ကမ္ဘာ၏ အသင်္ချေတို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

ဆဋ္ဌသုတ်။

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၇ - ရောဂသုတ်

၁၅၇။ ရဟန်းတို့ ရောဂါတို့သည် ဤနှစ်မျိုးတို့တည်း။ အဘယ်နှစ်မျိုးတို့နည်းဟူမူ- ကိုယ်၌ ဖြစ်သော ရောဂါ၊ စိတ်၌ဖြစ်သော ရောဂါတို့တည်း။ ရဟန်းတို့ တစ်နှစ်ပတ်လုံး ကိုယ်၌ဖြစ်သော ရောဂါ မရှိခြင်းကို ဝန်ခံကုန်သော သတ္တဝါ၊ နှစ်နှစ်တို့ပတ်လုံး သုံးနှစ်တို့ပတ်လုံး လေးနှစ်တို့ပတ်လုံး ငါးနှစ်တို့ ပတ်လုံး ဆယ်နှစ်တို့ ပတ်လုံး အနှစ်နှစ်ဆယ်တို့ပတ်လုံး အနှစ်သုံးဆယ်တို့ပတ်လုံး အနှစ်လေးဆယ်တို့ ပတ်လုံး အနှစ်ငါးဆယ်တို့ပတ်လုံး အနှစ်တစ်ရာ အနှစ်တစ်ရာအလွန် ရောဂါမရှိခြင်းကို ဝန်ခံကုန်သော သတ္တဝါတို့ကို တွေ့မြင်နိုင်ကုန်၏။ ရဟန်းတို့ ရဟန္တာပုဂ္ဂိုလ်မှတစ်ပါး တခဏမျှလည်း စိတ်၌ဖြစ်သော ရောဂါမရှိခြင်းကို ဝန်ခံသော သတ္တဝါတို့ကို လောက၌ အလွန် တွေ့မြင်ရခဲကုန်၏။

ရဟန်းတို့ ရဟန်း၏ ရောဂါတို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ- ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် အလိုကြီး၏၊ (ပစ္စည်းလေးပါးကြောင့်) ပင်ပန်းခြင်း ရှိ၏၊ ရတတ်သမျှ သက်န်း ဆွမ်း ကျောင်း သူနာ၏ အထောက်အပံ့ဆေး အသုံးအဆောင်ဖြင့် မရောင့်ရဲ။ ထိုရဟန်းသည် အလိုကြီးသည်ဖြစ်၍ (ပစ္စည်းလေးပါးကြောင့်) ပင်ပန်းခြင်း ရှိသည်ဖြစ်၍ သက်န်း ဆွမ်း ကျောင်း သူနာ၏ အထောက်အပံ့ ဆေးအသုံး အဆောင်ဖြင့် မရောင့်ရဲသည်ဖြစ်၍ သူတစ်ပါးတို့က မထီမဲ့မြင် မပြုခြင်းကို ရရန်, လာဘ် ပူဇော်သကာ အကျော်အစောကို ရရန် ယုတ်မာသော အလိုကို ဆောက်တည်၏။ ထိုရဟန်းသည် မိမိကို သူတစ်ပါးတို့က မထီမဲ့မြင် မပြုခြင်းကို ရရန်, လာဘ် ပူဇော်သကာ အကျော်အစောကို ရရန် ထကြွ၏၊ စေ့ဆော်၏၊ လုံ့လပြု၏။ ထိုရဟန်းသည် (ငါ့ကို သူတစ်ပါးတို့ သိစေသတည်း ဟု) ဆင်ခြင်၍ ဒါယကာတို့သို့ ချဉ်းကပ်၏၊ ဆင်ခြင်၍ နေထိုင်၏၊ ဆင်ခြင်၍တရားကို ပြောဟော၏၊ ဆင်ခြင်၍ ကျင်ကြီး ကျင်ငယ်တို့ကို ချုပ်တည်းထား၏။ ရဟန်းတို့ ရဟန်း၏ ရောဂါတို့သည် ဤလေးမျိုး တို့တည်း။

ရဟန်းတို့ ထို့ကြောင့် ဤသာသနာတော်၌ ဤသို့ ကျင့်ရမည် "ငါတို့သည် အလိုနည်းကုန်အံ့၊ (ပစ္စည်းလေးပါးကြောင့်) ပင်ပန်းခြင်း မရှိကုန်အံ့၊ ရတတ်သမျှ သက်န်း ဆွမ်း ကျောင်း သူနာ၏ အထောက်အပံ့ ဆေးအသုံးအဆောင်ဖြင့် ရောင့်ရဲကုန်အံ့၊ သူတစ်ပါးတို့ မထီမဲ့မြင် မပြုခြင်းကို ရရန်, လာဘ် ပူဇော်သကာ အကျော်အစောကို ရရန် ယုတ်မာသော အလိုကို မဆောက်တည်ကုန်အံ့၊

သူတစ်ပါးတို့ မထီမဲ့မြင်မပြုခြင်းကို ရရန် လာဘ်ပူဇော်သကာ အကျော်အစောကို ရရန် အားမထုတ်ကုန်အံ့၊ မထကြွကုန်အံ့၊ မစေ့ဆော်ကုန်အံ့၊ လှံ့လ မပြုကုန်အံ့၊ အချမ်း အပူ ဆာလောင်ခြင်း မွတ်သိပ်ခြင်း မှက် ခြင် လေ နေပူ မြွေ ကင်းသန်းတို့၏ အတွေ့တို့ကိုသည်းခံကုန်အံ့၊ မကောင်းသဖြင့် ဆိုအပ်ကုန်, မကောင်းသဖြင့် ရောက်လာကုန်သော စကားတို့ကိုလည်းကောင်း၊ ကိုယ်၌ ဖြစ်ဆဲဖြစ်သော ပြင်းထန် ကြမ်းကြုတ် စပ်ရှား ကျင်နာ မသာယာဖွယ် မနှစ်သက်ဖွယ်ဖြစ်သော သေလောက်သော ဆင်းရဲဝေဒနာတို့ကို လည်းကောင်း သည်းခံနိုင်သော သဘောရှိကုန်အံ့" ဟု (ကျင့်ရမည်)။ ရဟန်းတို့ ဤသို့လျှင် သင်တို့ ကျင့်ကြရမည် ဟု (မိန့်တော်မူ၏)။

**သတ္တမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

### ၈ - ပရိဟာနိသုတ်

၁၅၈။ ထိုအခါ အသျှင်သာရိပုတြာသည် ရဟန်းတို့ကို "ငါ့သျှင် ရဟန်းတို့"ဟု ခေါ်၏။ ထိုရဟန်းတို့သည် "ငါ့သျှင်" ဟူ၍ အသျှင်သာရိပုတြာအား ပြန်ကြားလျှောက်ကြကုန်၏။ အသျှင် သာရိပုတြာသည် ဤစကားကို မိန့်ဆို၏-

ငါ့သျှင်တို့ မည်သည့် ရဟန်းယောက်ျား ရဟန်းမိန်းမမဆိုတရားလေးမျိုးတို့ကို မိမိ၌ ကောင်းစွာ တွေ့မြင်ခဲ့လျှင် ငါသည် ကုသိုလ်တရားတို့မှ ဆုတ်ယုတ်၏ဟု ဆုံးဖြတ်ရမည်၊ ဤအကြောင်းလေးမျိုးကို ဆုတ်ယုတ်ကြောင်း ဟူ၍ မြတ်စွာဘုရား ဟောတော်မူ၏။ အဘယ်လေးမျိုးတို့နည်းဟူမူ- ရာဂများပြားခြင်း၊ ဒေါသများပြားခြင်း၊ မောဟများပြားခြင်း၊ နက်နဲကုန်သော အကြောင်းဟုတ်သည် မဟုတ်သည် တို့၌ ထို ပုဂ္ဂိုလ်၏ ပညာမျက်စိသည် မသက်ဝင်နိုင်ခြင်းတို့တည်း။ ငါ့သျှင်တို့ မည်သည့် ရဟန်းယောက်ျား ရဟန်းမိန်းမမဆို ဤတရားလေးမျိုးတို့ကို မိမိ၌ ကောင်းစွာ တွေ့မြင်ခဲ့လျှင် ငါသည် ကုသိုလ်တရားတို့မှ ဆုတ်ယုတ်၏ ဟု ဆုံးဖြတ်ရမည်၊ ဤအကြောင်း လေးမျိုးတို့ကို ဆုတ်ယုတ်ကြောင်း ဟူ၍ မြတ်စွာဘုရား ဟောတော်မူ၏။

ငါ့သျှင်တို့ မည်သည့် ရဟန်းယောက်ျား ရဟန်းမိန်းမမဆိုတရားလေးမျိုးတို့ကို မိမိ၌ ကောင်းစွာ တွေ့မြင်ခဲ့လျှင် ငါသည် ကုသိုလ်တရားတို့မှ မဆုတ်ယုတ်ဟု ဆုံးဖြတ်ရမည်၊ ဤအကြောင်းလေးမျိုးကို မဆုတ်ယုတ်ကြောင်း ဟူ၍ မြတ်စွာဘုရား ဟောတော်မူ၏။ အဘယ်လေးမျိုးတို့နည်းဟူမူ- ရာဂနည်းပါးခြင်း၊ ဒေါသနည်းပါးခြင်း၊ မောဟနည်းပါးခြင်း၊ နက်နဲကုန်သော အကြောင်းဟုတ်သည် မဟုတ်သည် တို့၌ ထို ပုဂ္ဂိုလ်၏ ပညာမျက်စိသည် သက်ဝင်နိုင်ခြင်းတို့တည်း။ ငါ့သျှင်တို့ မည်သည့် ရဟန်းယောက်ျား ရဟန်းမိန်းမမဆို ဤတရားလေးမျိုးတို့ကို မိမိ၌ ကောင်းစွာ တွေ့မြင်ခဲ့လျှင် ငါသည် ကုသိုလ်တရားတို့မှ မဆုတ်ယုတ်ပေဟု ဆုံးဖြတ်ရမည်၊ ဤအကြောင်းလေးမျိုးတို့ကို မဆုတ်ယုတ်ကြောင်း ဟူ၍ မြတ်စွာဘုရား ဟောတော်မူ၏ ဟု (မိန့်ဆို၏)။

**အဋ္ဌမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၆) ၁ - ဣန္ဒြိယဝဂ်ဂ် ===

### ၉ - ဘိက္ခုနီသုတ်

၁၅၉။ အကျွန်ုပ်သည် ဤသို့ ကြားနာခဲ့ရပါသည်- အခါတစ်ပါး၌ အသျှင်အာနန္ဒာသည် ကောသမ္ဗီပြည် ဃောသိတာရုံကျောင်း၌ (သီတင်းသုံး) နေတော်မူ၏။ ထိုအခါ ရဟန်းမိန်းမ တစ်ယောက်သည် ယောကျ်ား တစ်ယောက်ကို "အချင်းယောကျ်ား သင် လာလော့၊ အသျှင်အာနန္ဒာထံသို့ ချဉ်းကပ်၍ ငါ၏ စကားဖြင့် 'အသျှင်ဘုရား ဤမည်သော ရဟန်းမိန်းမသည် ဖျားနာနေပါသည်၊ ဆင်းရဲနေပါသည်၊ ပြင်းထန်စွာ မကျန်းမမာ ဖြစ်နေပါသည်၊ ထိုရဟန်းမိန်းမသည် အသျှင်အာနန္ဒာ၏ ခြေတို့ကို ဦးခေါင်းဖြင့် ရှိခိုးလိုက်ပါသည်ဟု အသျှင်အာနန္ဒာ၏ ခြေတို့ကို ဦးခေါင်းဖြင့် ရှိခိုးပါလေ၊ အသျှင်ဘုရား အသျှင်အာနန္ဒာသည် ရဟန်းမိန်းမကျောင်း ထိုရဟန်းမိန်းမထံသို့ သနားသမှု အကြောင်းပြု၍ ချဉ်းကပ်တော်မူပါရန် တောင်းပန်ပါ၏ဘုရား'ဟုလည်း လျှောက်ပါလေ" ဟု ဆို၏။ "အသျှင်မ ကောင်းလှပါပြီ" ဟု ထိုယောကျ်ားသည် ထိုရဟန်းမိန်းမ၏ စကားကို ဝန်ခံ၍ အသျှင်အာနန္ဒာထံသို့ ချဉ်းကပ်ပြီးလျှင် အသျှင်အာနန္ဒာကို ရှိခိုးလျက် တစ်ခုသော နေရာ၌ ထိုင်နေပြီးကာ အသျှင်အာနန္ဒာအား ဤစကားကို လျှောက်၏-

"အသျှင်ဘုရား ဤမည်သော ရဟန်းမိန်းမသည် ဖျားနာနေပါသည်၊ ဆင်းရဲနေပါသည်၊ ပြင်းထန်စွာ မကျန်းမမာ ဖြစ်နေပါသည်၊ ထိုရဟန်းမိန်းမသည် အသျှင်အာနန္ဒာ၏ ခြေတို့ကို ဦးခေါင်းဖြင့် ရှိခိုးလိုက်ပါသည်၊ အသျှင်ဘုရား အသျှင်အာနန္ဒာသည် ထိုရဟန်းမိန်းမ၏ကျောင်း ထိုရဟန်းမိန်းမထံသို့ သနားသမှု အကြောင်းပြု၍ ချဉ်းကပ်တော်မူပါရန် တောင်းပန်ပါ၏ဘုရားဟုလည်း လျှောက်လိုက်ပါသေးသည်" ဟု လျှောက်၏။ အသျှင်အာနန္ဒာသည် ဆိတ်ဆိတ်နေခြင်းဖြင့် လက်ခံတော်မူလိုက်၏။

ထို့နောက် အသျှင်အာနန္ဒာသည် သင်္ကန်းကို ပြင်ဝတ်တော်မူ၍ သပိတ်သင်္ကန်းကို ယူပြီးလျှင် ထိုရဟန်းမိန်းမ၏ကျောင်း ထိုရဟန်းမိန်းမထံသို့ ချဉ်းကပ်တော်မူလေ၏။ ထိုရဟန်းမိန်းမသည် အဝေးမှ ကြွလာသော အသျှင်အာနန္ဒာကို မြင်၍ ဦးခေါင်းနှင့် တကွ ခြုံပြီးလျှင် ညောင်စောင်း၌ အိပ်၏။ ထိုအခါ အသျှင်အာနန္ဒာသည် ထိုရဟန်းမိန်းမထံသို့ ချဉ်းကပ်ပြီးလျှင် ခင်းထားသော နေရာ၌ ထိုင်ပြီးနောက် ထိုရဟန်း မိန်းမအား ဤစကားကို မိန့်တော်မူ၏- နှမ ဤကိုယ်ကာယသည် သုံးဆောင်ဖွယ် အာဟာရကြောင့် ဖြစ်၏၊ အာဟာရကို အမှီပြု၍ အာဟာရ (မနောသဉ္စေတနာ) ကို ပယ်ရမည်။ နှမ ဤကိုယ်ကာယသည် တဏှာကြောင့် ဖြစ်၏၊ တဏှာကို အမှီပြု၍ တဏှာကို ပယ်ရမည်။ နှမ ဤကိုယ်ကာယသည် မာနကြောင့် ဖြစ်၏၊ မာနကို အမှီပြု၍ မာနကို ပယ်ရမည်။ နှမ ဤကိုယ်ကာယသည် မေထုန်ကြောင့် ဖြစ်၏၊ မေထုန်၌မှုကား အကြောင်းကို သတ်ရမည်ဟု မြတ်စွာဘုရား ဟောတော်မူ၏။

"နှမ ဤကိုယ်ကာယသည် အာဟာရကြောင့် ဖြစ်၏၊ အာဟာရကို အမှီပြု၍ အာဟာရကို ပယ်ရမည်" ဟု ငါဆိုသော စကားသည် အဘယ်ကို စွဲ၍ ဆိုသော စကားဖြစ်သနည်း၊ နှမ ဤသာသနာတော်၌ ရဟန်းသည် သင့်လျော်သော အကြောင်းအားဖြင့် ဆင်ခြင်၍ အာဟာရကို သုံးဆောင်၏- "မြူးထူးရန် မဟုတ်၊ မာန်ယစ်ရန် မဟုတ်၊ (အသား) ပြည့်ဖြိုးရန် မဟုတ်၊ (အရေအဆင်း) ကြည်လင်ရန် မဟုတ်၊ ဤကိုယ်တည်တံ့ရန်မျှသာ မျှတရန်မျှသာ ဆာလောင်မွတ်သိပ်ခြင်းကို ပယ်ဖျောက်ရန်မျှသာ မြတ်သော အကျင့်ကို အားထုတ်ရန်မျှသာ သုံးဆောင်ဖွယ် (အာဟာရ) ကို သုံးဆောင်၏။ ဤသို့ သုံးဆောင်ခြင်းဖြင့် ဝေဒနာဟောင်းကိုလည်း ပယ်ဖျောက်အံ့၊ ဝေဒနာသစ်ကိုလည်း မဖြစ်စေအံ့၊ ငါ့အား မျှတခြင်းသည် လည်းကောင်း၊ အပြစ်မရှိခြင်းသည်လည်းကောင်း၊ ချမ်းသာစွာ နေရခြင်းသည်လည်းကောင်း ဖြစ်လတ္တံ့" ဟု (ဆင်ခြင်၍) အာဟာရကို သုံးဆောင်၏။ ထိုရဟန်းသည် အခါတစ်ပါး၌ အာဟာရကို အမှီပြု၍

အာဟာရ ကို ပယ်၏၊ "နှမ ဤကိုယ်ကာယသည် အာဟာရကြောင့် ဖြစ်၏၊ အာဟာရကို အမှီပြု၍ အာဟာရကို ပယ်ရမည်" ဟူ၍ ငါဆိုခဲ့သော စကားသည် ဤသည်ကို စွဲ၍ ဆိုခဲ့သော စကားဖြစ်၏။

"နှမ ဤကိုယ်ကာယသည် တဏှာကြောင့် ဖြစ်၏၊ တဏှာကို အမှီပြု၍ တဏှာကို ပယ်အပ်၏"ဟု ငါဆိုသော စကားသည် အဘယ်ကို စွဲ၍ ဆိုသော စကားဖြစ်သနည်း၊ နှမ ဤသာသနာတော်၌ ရဟန်းသည် "ဤမည်သော ရဟန်းအား အာသဝေါတရားတို့ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ်မြောက်သော 'အရဟတ္တဖိုလ်' စိတ်နှင့် လွတ်မြောက်သော 'အရဟတ္တဖိုလ်' ပညာကို ယခုဘဝ၌ ပင်လျှင် ထူးသောဉာဏ်ဖြင့် ကိုယ်တိုင်မျက်မှောက်ပြုလျက် ရောက်၍ နေ၏"ဟု ကြား၏။ ထိုရဟန်းအား "အဘယ် အခါ၌ ငါသည်လည်း အာသဝေါတရားတို့ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ်မြောက်သော 'အရဟတ္တဖိုလ်' စိတ်နှင့် လွတ်မြောက်သော 'အရဟတ္တဖိုလ်' ပညာကို ယခုဘဝ၌ ပင်လျှင် ထူးသော ဉာဏ်ဖြင့် မျက်မှောက်ပြုလျက် ရောက်၍ နေရအံ့နည်း" ဟု အကြံဖြစ်၏၊ ထိုရဟန်းသည် တစ်ပါးသော အခါ၌ အရဟတ္တဖိုလ်၌ တောင့်တခြင်းကို အမှီပြု၍ တဏှာကို ပယ်၏။ "နှမ ဤကိုယ်ကာယသည် တဏှာကြောင့် ဖြစ်၏၊ တဏှာကို အမှီပြု၍ တဏှာကို ပယ်ရမည်"ဟု ငါဆိုခဲ့သော စကားသည် ဤသည်ကို စွဲ၍ ဆိုခဲ့သော စကားဖြစ်၏။

"နှမ ဤကိုယ်ကာယသည် မာနကြောင့် ဖြစ်၏၊ မာနကို အမှီပြု၍ မာနကို ပယ်ရမည်" ဟူ၍ ငါဆိုခဲ့သော စကားသည် အဘယ်ကို စွဲ၍ ဆိုသော စကားဖြစ်သနည်း၊ နှမ ဤသာသနာတော်၌ ရဟန်းသည် "ဤမည်သော ရဟန်းသည် အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ်မြောက်သော 'အရဟတ္တဖိုလ်' စိတ်နှင့် လွတ်မြောက်သော 'အရဟတ္တဖိုလ်' ပညာကို ယခုဘဝ၌ ပင်လျှင် ထူးသောဉာဏ်ဖြင့် ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်၍နေ၏" ဟု ကြား၏။ ထို ကြားသော ရဟန်းအား "ထို အသျှင်ကောင်းသည် အာသဝေါတရားတို့၏ ကုန်ခြင်းကြောင့် အာသဝေါကင်းသော လွတ်မြောက်သော 'အရဟတ္တဖိုလ်' စိတ်နှင့် လွတ်မြောက်သော 'အရဟတ္တဖိုလ်' ပညာကို ယခုဘဝ၌ပင်လျှင် ထူးသော ဉာဏ်ဖြင့် ကိုယ်တိုင်မျက်မှောက်ပြုလျက် ရောက်၍ နေတုံဘိသေး၏၊ ငါသည်ကား အဘယ့်ကြောင့် မနေရဘဲ ရှိအံ့နည်း" ဟု အကြံဖြစ်၏။ ထိုရဟန်းသည် တစ်ပါးသော အခါ၌ မာနကို အမှီပြု၍ မာနကို ပယ်စွန့်၏။ "နှမ ဤကိုယ်ကာယသည် မာနကြောင့် ဖြစ်၏၊ မာနကို အမှီပြု၍ မာနကို ပယ်ရမည်" ဟု ငါဆိုသော စကားသည် ဤသည်ကို စွဲ၍ ဆိုသော စကားဖြစ်၏။

"နှမ ဤကိုယ်ကာယသည် မေထုန်ကြောင့် ဖြစ်၏၊ မေထုန်၌မူကား အကြောင်းကို သတ်အပ်၏ ဟု မြတ်စွာဘုရား ဟောတော်မူ၏ ဟု (မိန့်ဆို၏)။

ထိုအခါ ထိုရဟန်းမိန်းမသည် ညောင်စောင်းမှ ထ၍ လက်ဝဲတစ်ဖက် ပခုံးထက်၌ အပေါ်ရုံကို စံပယ်တင်လျက် အသျှင်အာနန္ဒာ၏ ခြေတို့ကို ဦးခိုက်၍ အသျှင်အာနန္ဒာအား "အသျှင်ဘုရား မိုက်သည့် အလျောက် တွေဝေသည့်အလျောက် မလိမ္မာသည့်အလျောက် အကျွန်ုပ်ကို အပြစ်သည် လွှမ်းမိုး သွားခဲ့ပါ၏၊ အကျွန်ုပ်သည် ဤသို့ ပြုမိပါပြီ၊ အသျှင်ဘုရား အသျှင်ဘုရားအာနန္ဒာသည် ထို အကျွန်ုပ်၏ အပြစ်ကို နောင်အခါ စောင့်စည်းခြင်းငှါ အပြစ်ဟုသည်းခံတော်မူပါ"ဟု လျှောက်၏။ နှမ မိုက်သည့် အလျောက် တွေဝေသည့်အလျောက် မလိမ္မာသည့်အလျောက် အပြစ်သည် သင့်ကို စင်စစ် လွှမ်းမိုး သွားခဲ့၏၊ သင်သည် ဤသို့ ပြုမိလေပြီ၊ နှမ သင်သည် အပြစ်ကို အပြစ်ဟု မြင်၍ အပြစ်အားလျော်စွာ ကုစားသောကြောင့် သင်၏ ထို အပြစ်ကို အပြစ်ဟု ငါတို့သည်းခံကုန်၏။ နှမ အကြင်သူသည် အပြစ်ကို အပြစ် ဟု မြင်၍ အကြောင်းအားလျော်စွာ ကုစား၏၊ နောင်အခါ စောင့်စည်း၏၊ (ထိုသူ၏) ဤ(ကုစားခြင်း)သည်ပင်လျှင် အရိယာ၏ ဝိနည်း 'အဆုံးအမ' ၌ ကြီးပွါးခြင်းတည်း ဟု (မိန့်ဆို၏)။

**နဝမသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၆) ၁ - ဣန္ဒြိယဝဂ် ===

## ၁၀ - သုဂတဝိနယသုတ်

၁၆၀။ ရဟန်းတို့ မြတ်စွာဘုရားဖြစ်စေ မြတ်စွာဘုရား၏ အဆုံးအမဖြစ်စေ လောက၌ တည်လတ်သော် ထိုသို့ တည်ခြင်းသည် လူအများ၏ အစီးအပွါးအလို့ငှါ လူအများ၏ ချမ်းသာအလို့ငှါ သတ္တဝါအပေါင်းကို အစဉ်စောင့်ရှောက်ခြင်းငှါ နတ်လူတို့၏ အကျိုးငှါ အစီးအပွါးရှိခြင်းငှါ ချမ်းသာခြင်းငှါ ဖြစ်ရာ၏။

ရဟန်းတို့ မြတ်စွာဘုရား ဟူသည် အဘယ်နည်း ဟူမူ- ရဟန်းတို့ ဤလောက၌ ပူဇော်အထူးကို ခံတော်မူထိုက်သော၊ (အလုံးစုံသော တရားတို့ကို) ကိုယ်တိုင် မှန်စွာ သိတော်မူသော၊ အသိဉာဏ် 'ဝိဇ္ဇာ' အကျင့် 'စရဏ' နှင့် ပြည့်စုံတော်မူသော၊ ကောင်းသော စကားကို ဆိုတော်မူတတ်သော၊ လောကကို သိတော်မူသော၊ ဆုံးမထိုက်သူကို ဆုံးမတတ်သည့် အတုမဲ့ပုဂ္ဂိုလ် ဖြစ်တော်မူသော၊ နတ်လူတို့၏ ဆရာဖြစ်တော်မူသော၊ (သစ္စာလေးပါးတရားတို့ကို) သိစေတော်မူသော၊ ဘုန်းတန်ခိုးကြီးတော်မူသော မြတ်စွာဘုရားသည် ပွင့်တော်မူ၏။ ရဟန်းတို့ မြတ်စွာဘုရားဟူသည် ဤသည်ပင်တည်း။ ရဟန်းတို့ မြတ်စွာဘုရား၏ အဆုံးအမဟူသည် အဘယ်နည်းဟူမူ- ထို မြတ်စွာဘုရားသည် အစ၏ ကောင်းခြင်း အလယ်၏ ကောင်းခြင်း အဆုံး၏ကောင်းခြင်းရှိသော အနက်နှင့်ပြည့်စုံသော သဒ္ဒါနှင့်ပြည့်စုံသော တရားကို ဟောတော်မူ၏၊ အလုံးစုံပြည့်စုံသော စင်ကြယ်သော မြတ်သော အကျင့်ကို ပြတော်မူ၏။ ရဟန်းတို့ မြတ်စွာဘုရား၏ အဆုံးအမဟူသည် ဤသည်ပင်တည်း။ ရဟန်းတို့ မြတ်စွာဘုရားဖြစ်စေ မြတ်စွာဘုရား၏ အဆုံးအမဖြစ်စေ လောက၌ တည်လတ်သော် ထိုသို့တည်ခြင်းသည် လူအများ၏ အစီးအပွါးအလို့ငှါ လူအများ၏ ချမ်းသာအလို့ငှါ သတ္တဝါအပေါင်းကို အစဉ်စောင့်ရှောက်ခြင်းငှါ နတ်လူတို့၏ အကျိုးငှါ အစီးအပွါးရှိခြင်းငှါ ချမ်းသာခြင်းငှါ ဖြစ်၏။

ရဟန်းတို့ ဤတရားလေးမျိုးတို့သည် သူတော်ကောင်းတရား ပျက်ပြားခြင်း ကွယ်ပျောက်ခြင်းငှါ ဖြစ်ကုန်၏။ အဘယ် လေးမျိုး တို့နည်း ဟူမူ- ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မကောင်းသဖြင့် သင်ယူ အပ်သော သုတ်ကို မကောင်းသဖြင့် ထားအပ်ကုန်သော ပုဒ်ဗျည်းတို့ဖြင့် သင်ကြားကုန်၏၊ ရဟန်းတို့ မကောင်းသဖြင့် ထားအပ်သော ပုဒ်ဗျည်း၏ အနက်သည်လည်း သိနိုင်ခဲ၏။ ရဟန်းတို့ ဤပဌမတရားသည် သူတော်ကောင်းတရား၏ ပျက်ပြားခြင်းငှါ ကွယ်ပျောက်ခြင်းငှါ ဖြစ်၏။

ရဟန်းတို့ နောက်တစ်မျိုးကား ရဟန်းတို့သည် ပြောဆိုခက်ကုန်၏၊ ပြောဆိုခက်ခြင်းကို ပြုတတ်သော (မာနစသော)တရားတို့နှင့် ပြည့်စုံကုန်၏၊ သွန်သင်သော စကားကိုသည်းမခံနိုင်ကုန်၊ ရိုသေစွာ မနာယူကုန်။ ရဟန်းတို့ ဤဒုတိယတရားသည် သူတော်ကောင်းတရား၏ ပျက်ပြားခြင်းငှါ ကွယ်ပျောက်ခြင်းငှါ ဖြစ်၏။

ရဟန်းတို့ နောက်တစ်မျိုးကား အကြင် ရဟန်းတို့သည် အကြားအမြင်များကုန်၏၊ ပါဠိတော်ကို နှုတ်ငုံဆောင်ကုန်၏၊ တရားတော်ကို ဆောင်ကုန်၏၊ ဝိနည်းတော်ကို ဆောင်ကုန်၏၊ ပါတိမောက်ကို ဆောင်ကုန်၏၊ ထိုရဟန်းတို့သည် သုတ်ကို သူတစ်ပါးအား ရိုသေစွာ မပို့ချကုန်၊ ထိုရဟန်းတို့ ကွယ်လွန်သဖြင့်တရားသည် အရင်းမူလ ပြတ်တော့၏၊ တည်ရာ မရှိတော့ပြီ။ ရဟန်းတို့ ဤတတိယတရားသည် သူတော်ကောင်းတရား၏ ပျက်ပြားခြင်းငှါ ကွယ်ပျောက်ခြင်းငှါ ဖြစ်၏။

ရဟန်းတို့ နောက်တစ်မျိုးကား သီတင်းကြီးရဟန်းတို့သည် ပစ္စည်းများခြင်းငှါ ကျင့်ကုန်၏၊ သိက္ခာသုံးပါး၌ လျော့လျော့ယူကြကုန်၏၊ အောက်သို့ သက်စေတတ်သော တရားတို့၌ ရှေ့သွားပြုကုန်၏၊ ဆိတ်ငြိမ်ခြင်း (ဝိဝေကသုံးပါး) ၌ တာဝန်မဲ့ဖြစ်ကုန်၏၊ မရောက်သေးသော (ဈာန် မဂ် ဖိုလ်) သို့ ရောက်ရန် မရသေးသော (ဈာန် မဂ် ဖိုလ်) ကို ရရန် မျက်မှောက် မပြုရသေးသော (နိဗ္ဗာန်) ကို မျက်မှောက်ပြုရန် လုံ့လ မထုတ်ကုန်။ နောင်လာနောက်သားတို့သည် ထို သီတင်းကြီးတို့၏ အပြုအမူသို့ အစဉ်လိုက်

ကုန်၏၊ နောင်လာ နောက်သားတို့ သည်လည်း ပစ္စည်းများခြင်းငှါ ကျင့်ကုန်၏၊ (သိက္ခာသုံးပါး၌) လျော့လျော့ ယူကုန်၏၊ အောက်သို့ သက်စေတတ်သော တရားကို ဖြည့်ခြင်း၌ ရှေ့သွားဖြစ်ကုန်၏၊ ဆိတ်ငြိမ်ခြင်း (ဝိဝေကသုံးပါး) ၌ တာဝန်မဲ့ ဖြစ်ကုန်၏၊ မရောက်သေးသော (ဈာန် မဂ် ဖိုလ်) သို့ ရောက်ရန် မရသေးသော (ဈာန် မဂ် ဖိုလ်) ကို ရရန် မျက်မှောက် မပြုရသေးသော (နိဗ္ဗာန်) ကို မျက်မှောက်ပြုရန် လုံ့လ မထုတ်ကုန်။ ရဟန်းတို့ ဤစတုတ္ထတရားသည် သူတော်ကောင်းတရား၏ ပျက်ပြားခြင်းငှါ ကွယ်ပျောက်ခြင်းငှါ ဖြစ်၏။ ရဟန်းတို့ ဤတရားလေးမျိုးတို့သည် သူတော်ကောင်း တရား၏ ပျက်ပြားခြင်းငှါ ကွယ်ပျောက်ခြင်းငှါ ဖြစ်ကုန်၏။

ရဟန်းတို့ ဤတရားလေးမျိုးတို့သည် သူတော်ကောင်းတရား၏ တည်ခြင်းငှါ မပျက်ပြားခြင်းငှါ မကွယ်ပျောက်ခြင်းငှါ ဖြစ်ကုန်၏။ အဘယ်လေးမျိုးတို့နည်းဟူမူ- ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် ကောင်းစွာ သင်ယူအပ်သော သုတ်ကို ကောင်းစွာ ထားအပ်သော ပုဒ်ဗျည်းတို့ဖြင့် သင်ကြား ကုန်၏၊ ရဟန်းတို့ ကောင်းစွာ ထားအပ်သော ပုဒ်ဗျည်း၏ အနက်သည်လည်း သိလွယ်၏။ ရဟန်းတို့ ဤပဌမတရားသည် သူတော်ကောင်းတရား၏ တည်ခြင်းငှါ မပျက်ပြားခြင်းငှါ မကွယ် ပျောက်ခြင်းငှါ ဖြစ်၏။

ရဟန်းတို့ နောက်တစ်မျိုးကား ရဟန်းတို့သည် ဆိုဆုံးမလွယ်၏၊ ဆိုဆုံးမလွယ်သည်ကို ပြုတတ် ကုန်သော တရားတို့နှင့် ပြည့်စုံကုန်၏၊ သွန်သင်သော စကားကိုသည်းခံနိုင်ကုန်၏၊ ရိုသေစွာ နာယူ ကုန်၏။ ရဟန်းတို့ ဤဒုတိယတရားသည် သူတော်ကောင်းတရား၏ တည်ခြင်းငှါ မပျက်ပြားခြင်းငှါ မကွယ်ပျောက်ခြင်းငှါ ဖြစ်၏။

ရဟန်းတို့ နောက်တစ်မျိုးကား အကြင် ရဟန်းတို့သည် အကြားအမြင်များကုန်၏၊ ပါဠိတော်ကို နှုတ်ငုံဆောင်ကုန်၏၊ တရားတော်ကို ဆောင်ကုန်၏၊ ဝိနည်းတော်ကို ဆောင်ကုန်၏၊ ပါတိမောက်ကို ဆောင်ကုန်၏၊ ထိုရဟန်းတို့သည် သုတ်ကို သူတစ်ပါးအား ရိုသေစွာ ပို့ချကုန်၏၊ ထိုရဟန်းတို့ ကွယ်လွန်သဖြင့် သုတ္တန်သည် အရင်းမူလမပြတ်၊ (ဗဟုသုတရှိသော ရဟန်းဟူသော) တည်ရာ ရှိ၏။ ရဟန်းတို့ ဤတတိယတရားသည် သူတော်ကောင်းတရား၏ တည်ခြင်းငှါ မပျက်ပြားခြင်းငှါ မကွယ် ပျောက်ခြင်းငှါ ဖြစ်၏။

ရဟန်းတို့ နောက်တစ်မျိုးကား သီတင်းကြီးရဟန်းတို့သည် ပစ္စည်းများခြင်းငှါ မကျင့်ကုန်၊ သိက္ခာ သုံးပါး၌ လျော့လျော့ မယူကုန်၊ အောက်သို့ သက်စေတတ်သော တရားတို့ကို ဖြည့်ခြင်း၌ ရှေ့သွား မဖြစ်ကုန်၊ ဆိတ်ငြိမ်ခြင်း (ဝိဝေကသုံးပါး) ၌ တာဝန်မဲ့မဖြစ်ကုန်၊ မရောက်သေးသော (ဈာန် မဂ် ဖိုလ်သို့) ရောက်ရန် မရသေးသော (ဈာန် မဂ် ဖိုလ်) ကို ရရန် မျက်မှောက်မပြုရသေးသော (နိဗ္ဗာန်) ကို မျက်မှောက် ပြုရန် လုံ့လထုတ်ကုန်၏၊ နောင်လာနောက်သားတို့သည် ထို သီတင်းကြီးတို့၏ အမူအရာသို့ အတုလိုက် ကုန်၏၊ ထို နောင်လာ နောက်သား တို့သည်လည်း ပစ္စည်းများခြင်းငှါ မကျင့်ကုန်၊ (သိက္ခာသုံးပါး၌) လျော့လျော့ မယူကုန်၊ အောက်သို့ သက်စေတတ်သော တရားကို ဖြည့်ခြင်း၌ ရှေ့သွား မဖြစ်ကုန်၊ ဆိတ်ငြိမ်ခြင်း (ဝိဝေကသုံးပါး) ၌ တာဝန်မဲ့ မဖြစ်ကုန်၊ မရောက်သေးသော (ဈာန် မဂ် ဖိုလ်)သို့ ရောက်ရန် မရသေးသော (ဈာန် မဂ် ဖိုလ်) ကို ရရန် မျက်မှောက်မပြုရသေးသော (နိဗ္ဗာန်)ကို မျက်မှောက်ပြုရန် လုံ့လထုတ်ကုန်၏။ ရဟန်းတို့ ဤစတုတ္ထတရားသည် သူတော်ကောင်း တရား၏ တည်ခြင်းငှါ မပျက်ပြားခြင်းငှါ မကွယ်ပျောက်ခြင်းငှါ ဖြစ်၏။ ရဟန်းတို့ ဤတရား လေးမျိုးတို့သည် သူတော်ကောင်း တရား၏ တည်ခြင်းငှါ မပျက်ပြားခြင်းငှါ မကွယ်ပျောက်ခြင်းငှါ ဖြစ်ကုန်၏ ဟု (မိန့်တော်မူ၏)။

**ဒသမသုတ်။**

**ရှေးဦးစွာသော ဣန္ဒြိယဝဂ် ပြီး၏။**

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၇) ၂ - ပဋိပဒါဝဂ် ===

### ၁ - သံခိတ္တသုတ်

၁၆၁။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ- ဆင်းရဲပြိုပြင်စွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်၊ ဆင်းရဲပြိုပြင်စွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်၊ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်၊ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်တို့တည်း။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

ပဌမသုတ်။

------

## အင်္ဂုတ္တိုရ်ပါဠိတော်

### === (၁၇) ၂ - ပဋိပဒါဝဂ် ===

### ၂ - ဝိတ္ထာရသုတ်

၁၆၂။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ- ဆင်းရဲပြိုပြင်စွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်၊ ဆင်းရဲပြိုပြင်စွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ် ရှိသော အကျင့်၊ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်၊ ချမ်းသာ လွယ်ကူစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်တို့တည်း။

ရဟန်းတို့ ဆင်းရဲပြိုပြင်စွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော သူသည် ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော ရာဂ သဘောရှိ၏၊ ရာဂကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် ခံစားရ၏၊ ပင်ကိုယ်သဘော အားဖြင့်လည်း ပြင်းထန်သော ဒေါသသဘော ရှိ၏၊ ဒေါသကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံး မသာခြင်းကို မပြတ်ခံစားရ၏၊ ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော မောဟသဘောရှိ၏၊ မောဟကြောင့် ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် ခံစားရ၏။ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ ဝီရိယိန္ဒြေ သတိန္ဒြေ သမာဓိန္ဒြေ ပညိန္ဒြေအားဖြင့် ဤနှံ့သော ဣန္ဒြေငါးပါးတို့သည် ထင်ရှားဖြစ်ကုန်၏၊ ထို ပုဂ္ဂိုလ်သည် ဤဣန္ဒြေ ငါးပါးတို့၏ နှံ့ခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေးတတ် သော) မဂ်သမာဓိသို့ နှံ့နှေးစွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ဆင်းရဲပြိုပြင်စွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်ဟု ဆိုအပ်၏။

ရဟန်းတို့ ဆင်းရဲပြိုပြင်စွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့် ဟူသည် အဘယ် နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော သူသည် ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော ရာဂ သဘောရှိ၏၊ ရာဂကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် ခံစားရ၏၊ ပင်ကိုယ်သဘော အားဖြင့်လည်း ပြင်းထန်သော ဒေါသသဘော ရှိ၏၊ ဒေါသကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံး မသာခြင်းကို မပြတ် ခံစားရ၏၊ ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော မောဟ သဘောရှိ၏၊

မောဟကြောင့် ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် ခံစားရ၏။ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ ဝီရိယိန္ဒြေ သတိန္ဒြေ သမာဓိန္ဒြေ ပညိန္ဒြေအားဖြင့် ဤလွန်ကဲသော ဣန္ဒြေ ငါးပါးတို့သည် ထင်ရှားဖြစ်ကုန်၏၊ ထို ပုဂ္ဂိုလ်သည် ဤဣန္ဒြေငါးပါးတို့၏ လွန်ကဲခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေး တတ်သော) မဂ်သမာဓိသို့ လျင်မြန်စွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ဆင်းရဲငြိုငြင်စွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်ဟု ဆိုအပ်၏။

ရဟန်းတို့ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော ရာဂသဘော မရှိ၊ ရာဂကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် မခံစားရ၊ ပင်ကိုယ် သဘောအားဖြင့်လည်း ပြင်းထန်သော ဒေါသသဘော မရှိ၊ ဒေါသကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံး မသာခြင်းကို မပြတ်မခံစားရ၊ ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော မောဟသဘောမရှိ၊ မောဟကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် မခံစားရ၊ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ။ပ။ ပညိန္ဒြေ အားဖြင့် ဤနှံ့သော ဣန္ဒြေငါးပါးတို့သည် ထင်ရှား ဖြစ်ကုန်၏၊ ထို ပုဂ္ဂိုလ်သည် ဤဣန္ဒြေ ငါးပါးတို့၏ နှံ့ခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေးတတ်သော) မဂ်သမာဓိသို့ နှံ့နှေးစွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်ဟူ၍ ဆိုအပ်၏။

ရဟန်းတို့ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော ရာဂသဘော မရှိ၊ ရာဂကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် မခံစားရ၊ ပင်ကိုယ် သဘောအားဖြင့်လည်း ပြင်းထန်သော ဒေါသသဘောမရှိ၊ ဒေါသကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် မခံစားရ၊ ပင်ကိုယ်သဘောအားဖြင့်လည်း ပြင်းထန်သော မောဟသဘော မရှိ၊ မောဟကြောင့်ဖြစ်သော ဆင်းရဲခြင်း နှလုံးမသာခြင်းကို မပြတ် မခံစားရ၊ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ ဝီရိယိန္ဒြေ သတိန္ဒြေ သမာဓိန္ဒြေ ပညိန္ဒြေအားဖြင့် ဤလွန်ကဲသော ဣန္ဒြေငါးပါးတို့သည် ထင်ရှား ဖြစ်ကုန်၏၊ ထို ပုဂ္ဂိုလ်သည် ဤဣန္ဒြေငါးပါးတို့၏ လွန်ကဲခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေးတတ်သော) မဂ်သမာဓိသို့ လျင်မြန်စွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ချမ်းသာ လွယ်ကူစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်ဟု ဆိုအပ်၏။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုးတို့တည်း ဟု (မိန့်တော်မူ၏)။

**ဒုတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၇) ၂ - ပဋိပဒါဝဂ် ===

### ၃ - အသုဘသုတ်

၁၆၃။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုးတို့တည်း။ အဘယ်လေးမျိုးတို့နည်းဟူမူ- ဆင်းရဲပြင်းပြင်းစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်၊ ဆင်းရဲပြင်းပြင်းစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်၊ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်၊ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်တို့တည်း။

ရဟန်းတို့ ဆင်းရဲပြင်းပြင်းစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် (မိမိ) ကိုယ်၌ မတင့်တယ်ဟု အဖန်တလဲလဲ ရှု၍ နေ၏၊ (သုံးဆောင်အပ်သော) အာဟာရ၌ စက်ဆုပ်ဖွယ်ဟု အမှတ်ရှိသည်, အလုံးစုံသော လောက၌ မမွေ့လျော်ဖွယ်ဟု အမှတ်ရှိသည်, အလုံးစုံသော သင်္ခါရတရားတို့၌ အမြဲမရှိဟု အဖန်တလဲလဲ ရှုလေ့ရှိသည် ဖြစ်၍ နေ၏။ ထို ပုဂ္ဂိုလ်အား သေခြင်းကို အာရုံပြု၍ဖြစ်သော အမှတ် 'သညာ'သည် မိမိသန္တာန်၌ ကောင်းစွာ ကပ်၍ တည်၏၊ ထို ပုဂ္ဂိုလ်သည် သဒ္ဓါဗိုလ် ဟိရီဗိုလ် ဩတ္တပ္ပဗိုလ် ဝီရိယဗိုလ် ပညာဗိုလ် အားဖြင့် ဤသေက္ခဗိုလ် ငါးပါးတို့ကို အမှီပြု၍ နေ၏။ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ ဝီရိယန္ဒြေ သတိန္ဒြေ သမာဓိန္ဒြေ ပညိန္ဒြေအားဖြင့် ဤနှံ့ကုန်သော ဣန္ဒြေငါးပါးတို့သည် ထင်ရှားဖြစ်ကုန်၏။ ထို ပုဂ္ဂိုလ်သည် ထို ဣန္ဒြေငါးပါးတို့၏ နှံ့ခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေးတတ်သော) မဂ် သမာဓိ သို့ နှံ့နှေးစွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ဆင်းရဲပြင်းပြင်းစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့် ဟု ဆိုအပ်၏။

ရဟန်းတို့ ဆင်းရဲပြင်းပြင်းစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မိမိကိုယ်၌ မတင့်တယ်ဟု အဖန်တလဲလဲ ရှု၍ နေ၏၊ (သုံးဆောင်အပ်သော) အာဟာရ၌ စက်ဆုပ်ဖွယ်ဟု အမှတ်ရှိသည်, အလုံးစုံသော လောက၌ မမွေ့လျော်ဖွယ်ဟု အမှတ်ရှိသည်, အလုံးစုံသော သင်္ခါရတရားတို့၌ အမြဲမရှိဟု အဖန်တလဲလဲ ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ထို ပုဂ္ဂိုလ်အား သေခြင်းကို အာရုံပြု၍ ဖြစ်သော အမှတ် 'သညာ'သည် မိမိသန္တာန်၌ ကောင်းစွာ ကပ်၍ တည်၏၊ ထို ပုဂ္ဂိုလ်သည် သဒ္ဓါဗိုလ်။ပ။ ပညာဗိုလ်အားဖြင့် ဤသေက္ခဗိုလ်ငါးပါးတို့ကို အမှီပြု၍ နေ၏။ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ။ပ။ ပညိန္ဒြေအားဖြင့် ဤလွန်ကဲသော ဣန္ဒြေငါးပါးတို့သည် ထင်ရှားဖြစ်ကုန်၏။ ထို ပုဂ္ဂိုလ်သည် ဤဣန္ဒြေငါးပါးတို့၏ လွန်ကဲခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေးတတ်သော) မဂ်သမာဓိသို့ လျင်မြန်စွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ဆင်းရဲပြင်းပြင်းစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်ဟု ဆိုအပ်၏။

ရဟန်းတို့ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ နှံ့နှေးသော အသိဉာဏ်ရှိသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် ကာမတို့မှ ကင်းဆိတ်၍သာလျှင် အကုသိုလ်တရားတို့မှ ကင်းဆိတ်၍သာလျှင် ကြံစည်ခြင်း 'ဝိတက်' နှင့် တကွဖြစ်သော၊ သုံးသပ်ခြင်း 'ဝိစာရ' နှင့် တကွ ဖြစ်သော၊ (နီဝရဏ) ကင်းခြင်းကြောင့်ဖြစ်သော၊ နှစ်သိမ့်ခြင်း 'ပီတိ' ချမ်းသာခြင်း 'သုခ' ရှိသော ပဌမစျာန်သို့ ရောက်၍ နေ၏။ ကြံစည်ခြင်း 'ဝိတက်' သုံးသပ်ခြင်း 'ဝိစာရ'တို့၏ ချုပ်ခြင်းကြောင့် မိမိသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော၊ စိတ်၏ တည်ကြည်ခြင်း 'သမာဓိ' ကို ဖြစ်ပွါးစေတတ်သော၊ ကြံစည်ခြင်း 'ဝိတက်' မရှိသော၊ သုံးသပ်ခြင်း 'ဝိစာရ' မရှိသော၊ တည်ကြည်ခြင်း 'သမာဓိ'ကြောင့် ဖြစ်သော၊ နှစ်သိမ့်ခြင်း 'ပီတိ' ချမ်းသာခြင်း 'သုခ' ရှိသော ဒုတိယစျာန်သို့ ရောက်၍ နေ၏။ နှစ်သိမ့်ခြင်း 'ပီတိ' ကိုလည်း မစွဲမက်ခြင်းကြောင့် အောက်မေ့ခြင်း 'သတိ', ဆင်ခြင်ဉာဏ် 'သမ္ပဇဉ်'နှင့် ပြည့်စုံသည် ဖြစ်၍ လျစ်လျူရှုလျက် နေ၏၊ ချမ်းသာခြင်း 'သုခ' ကိုလည်း ကိုယ်ဖြင့် ခံစား၏၊ အရိယာပုဂ္ဂိုလ်တို့သည်

အကြင် (တတိယစျာန်)ကြောင့် ထိုသူကို “လျစ်လျူရှုသူ သတိရှိသူ ချမ်းသာစွာ နေလေ့ရှိသူ”ဟု ပြောကြား ကုန်၏၊ ထို တတိယစျာန်သို့ ရောက်၍ နေ၏။ ချမ်းသာခြင်း ‘သုခ’ ကိုလည်း ပယ်ခြင်းကြောင့် ဆင်းရဲခြင်း ‘ဒုက္ခ’ကိုလည်း ပယ်ခြင်းကြောင့် ရှေးဦးကပင်လျှင် ဝမ်းသာခြင်း ‘သောမနဿ’ နှလုံးမသာခြင်း ‘ဒေါမနဿ’တို့၏ ချုပ်နှင့်ခြင်းကြောင့် ဆင်းရဲလည်းမဟုတ် ချမ်းသာလည်းမဟုတ်သော လျစ်လျူရှုမှု ‘ဉပေက္ခာ’ ကြောင့် ဖြစ်သည့် သတိ၏ စင်ကြယ်ခြင်းရှိသော စတုတ္ထစျာန်သို့ ရောက်၍ နေ၏။ ထို ပုဂ္ဂိုလ်သည် သဒ္ဓါဗိုလ်။ပ။ ပညာဗိုလ်အားဖြင့် ဤသေက္ခဗိုလ် ငါးပါးတို့ကို အမှီပြု၍ နေ၏။ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ။ပ။ ပညိန္ဒြေ အားဖြင့် ဤနုံ့သော ဣန္ဒြေငါးပါး တို့သည် ထင်ရှားဖြစ်ကုန်၏။ ထို ပုဂ္ဂိုလ်သည် ဤဣန္ဒြေငါးပါးတို့၏ နုံ့ခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေး တတ်သော) မဂ်သမာဓိသို့ နုံ့နှေးစွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ နုံ့နှေးသော အသိဉာဏ် ရှိသော အကျင့် ဟု ဆိုအပ်၏။

ရဟန်းတို့ ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ လျင်မြန်သော အသိဉာဏ်ရှိသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် ကာမတို့မှ ကင်းဆိတ်၍သာလျှင် အကုသိုလ်တရားတို့မှ ကင်းဆိတ်၍ သာလျှင် ကြံစည်ခြင်း ‘ဝိတက်’ နှင့်တကွဖြစ်သော၊ သုံးသပ်ခြင်း ‘ဝိစာရ’ နှင့်တကွ ဖြစ်သော၊ (နီဝရဏ) ကင်းခြင်းကြောင့်ဖြစ်သော၊ နှစ်သိမ့်ခြင်း ‘ပီတိ’ ချမ်းသာခြင်း ‘သုခ’ ရှိသော ပဌမ စျာန်သို့ ရောက်၍ နေ၏။ပ။ ဒုတိယစျာန်သို့။ပ။ တတိယစျာန်သို့။ပ။ စတုတ္ထစျာန်သို့ ရောက်၍ နေ၏။ ထို ပုဂ္ဂိုလ်သည် သဒ္ဓါဗိုလ် ဟိရီဗိုလ် ဩတ္တပ္ပဗိုလ် ဝီရိယဗိုလ် ပညာဗိုလ်အားဖြင့် ဤသေက္ခဗိုလ် ငါးပါးတို့ကို အမှီပြု၍ နေ၏။ ထို ပုဂ္ဂိုလ်အား သဒ္ဓိန္ဒြေ ဝီရိယိန္ဒြေ သတိန္ဒြေ သမာဓိန္ဒြေ ပညိန္ဒြေအားဖြင့် လွန်ကဲသော ဤဣန္ဒြေငါးပါးတို့သည် ထင်ရှားဖြစ်ကုန်၏။ ထို ပုဂ္ဂိုလ်သည် ဤဣန္ဒြေ ငါးပါးတို့၏ လွန်ကဲခြင်းကြောင့် အာသဝေါတရားတို့ ကုန်ခြင်းငှါ မိမိ၏ (အခြားမဲ့၌ အကျိုးပေး တတ်သော) မဂ်သမာဓိသို့ လျင်မြန်စွာ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ချမ်းသာလွယ်ကူစွာ ကျင့်ရ၍ လျင်မြန်သော အသိ ဉာဏ်ရှိသော အကျင့်ဟု ဆိုအပ်၏။ ရဟန်းတို့ အကျင့် တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

**တတိယသုတ်။**

------

# အင်္ဂုတ္တိုရ်ပါဠိတော်

## === (၁၇) ၂ - ပဋိပဒါဝဂ် ===

### ၄ - ပဉ္စမ ခမသုတ်

၁၆၄။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- သည်းမခံခြင်း ဟူသော အကျင့်၊ သည်းခံခြင်း ဟူသော အကျင့်၊ ဆုံးမခြင်းဟူသော အကျင့်၊ ငြိမ်းစေခြင်း ဟူသော အကျင့်တို့တည်း။

ရဟန်းတို့သည်းမခံခြင်းဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သောသူသည် ဆဲရေးသူကို ပြန်၍ ဆဲရေး၏၊ ထိပါးသူကို ပြန်၍ ထိပါး၏၊ ပုတ်ခတ်သူကို ပြန်၍ ပုတ်ခတ်၏။ ရဟန်းတို့ ဤအကျင့်ကိုသည်းမခံခြင်းဟူသော အကျင့်ဟု ဆိုအပ်၏။

ရဟန်းတို့သည်းခံခြင်း ဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သောသူသည် ဆဲရေးသူကို ပြန်၍ မဆဲရေး၊ ထိပါးသူကို ပြန်၍ မထိပါး၊ ပုတ်ခတ်သူကို ပြန်၍ မပုတ်ခတ်။ ရဟန်းတို့ ဤအကျင့်ကိုသည်းခံခြင်း ဟူသော အကျင့် ဟု ဆိုအပ်၏။

ရဟန်းတို့ ဆုံးမခြင်းဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မျက်စိဖြင့် အဆင်း'ရူပါရုံ'ကို မြင်သော် (မိန်းမ ယောကျ်ား စသော) သဏ္ဌာန်နိမိတ်ကို စွဲယူလေ့မရှိ၊ (လက်ခြေ စသော အင်္ဂါ ပြုံးဟန်ရယ်ဟန်စသော အမူအရာ) အမှတ်လက္ခဏာကို စွဲယူလေ့မရှိ၊ (အကယ်၍) စက္ခုန္ဒြေကို မစောင့်စည်းဘဲနေလျှင် ယင်း (စက္ခုန္ဒြေကို မစောင့်စည်းခြင်းဟူသော) အကြောင်းကြောင့် မက်မောခြင်း 'အဘိဇ္ဈာ' နှလုံးမသာခြင်း 'ဒေါမနဿ'ဟူသော ယုတ်ညံ့သော အကုသိုလ်တရားတို့သည် ထို မစောင့်စည်းသူကို လိုက်၍ နှိပ်စက်ကုန်ရာ၏။ (ထို့ကြောင့် ရဟန်းသည်) ထို စက္ခုန္ဒြေကို စောင့်စည်းခြင်းငှါ ကျင့်၏၊ စက္ခုန္ဒြေကို စောင့်စည်း၏၊ စက္ခုန္ဒြေ၌ စောင့်စည်းခြင်းသို့ ရောက်၏။ နားဖြင့် အသံ 'သဒ္ဒါရုံ' ကို ကြားသော်။ပ။ နှာခေါင်းဖြင့် အနံ့ 'ဂန္ဓာရုံ'ကို နမ်းသော်။ပ။ လျှာဖြင့် အရသာ 'ရသာရုံ'ကို လျက်သော်။ပ။ ကိုယ်ဖြင့် အတွေ့ 'ဖောဋ္ဌဗ္ဗာရုံ'ကို ထိသော်။ပ။ စိတ်ဖြင့် သဘော 'ဓမ္မာရုံ' ကို သိသော် (မိန်းမယောကျ်ား စသော) သဏ္ဌာန်နိမိတ်ကို စွဲယူလေ့မရှိ၊ (လက်ခြေ စသော အင်္ဂါ ပြုံးဟန် ရယ်ဟန်စသော အမူအရာ) အမှတ်လက္ခဏာကို စွဲယူလေ့မရှိ၊ (အကယ်၍) မနိန္ဒြေကို မစောင့်စည်းဘဲနေလျှင် ယင်း (မနိန္ဒြေကို မစောင့်စည်းခြင်းဟူသော) အကြောင်းကြောင့် မက်မောခြင်း 'အဘိဇ္ဈာ' နှလုံးမသာခြင်း 'ဒေါမနဿ' ဟူသော ယုတ်ညံ့သော အကုသိုလ်တရားတို့သည် ထို မစောင့်စည်း သူကို လိုက်၍ နှိပ်စက်ကုန်ရာ၏၊ (ထို့ကြောင့် ရဟန်းသည်) ထို မနိန္ဒြေကို စောင့်စည်းခြင်းငှါ ကျင့်၏၊ မနိန္ဒြေကို စောင့်စည်း၏၊ မနိန္ဒြေ၌ စောင့်စည်းခြင်းသို့ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ဆုံးမခြင်းဟူသော အကျင့်ဟု ဆိုအပ်၏။

ရဟန်းတို့ ငြိမ်းစေခြင်းဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် ဖြစ်ပေါ်လာသော ကာမဝိတက်ကို လက်မခံ၊ ပယ်စွန့်၏၊ ပယ်ဖျောက်၏၊ ငြိမ်းစေ၏၊ ကင်းအောင် ပြု၏၊ တစ်ဖန် မဖြစ်ခြင်းသို့ ရောက်စေ၏၊ ဖြစ်ပေါ်လာသော ဗျာပါဒဝိတက်ကို။ပ။ ဖြစ်ပေါ်လာသော ဝိဟိံသာဝိတက်ကို ဖြစ်တိုင်း ဖြစ်တိုင်းကုန်သော အကုသိုလ်တရားယုတ်တို့ကို လက်မခံ၊ ပယ်စွန့်၏၊ ပယ်ဖျောက်၏၊ ငြိမ်းစေ၏၊ ကင်းအောင် ပြု၏၊ တစ်ဖန် မဖြစ်ခြင်းသို့ ရောက်စေ၏။ ရဟန်းတို့ ဤအကျင့်ကို ငြိမ်းစေခြင်းဟူသော အကျင့်ဟု ဆိုအပ်၏။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

စတုတ္ထသုတ်။

------

## === (၁၇) ၂ - ပဋိပဒါဝဂ် ===

### ၅ - ဒုတိယ ခမသုတ်

၁၆၅။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုး တို့တည်း။ အဘယ် လေးမျိုး တို့နည်း ဟူမူ- သည်းမခံခြင်း ဟူသော အကျင့်၊ သည်းခံခြင်း ဟူသော အကျင့်၊ ဆုံးမခြင်းဟူသော အကျင့်၊ ငြိမ်းစေခြင်း ဟူသော အကျင့်တို့တည်း။

ရဟန်းတို့သည်းမခံခြင်းဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော သူသည် အချမ်း အပူ ဆာလောင်ခြင်း မွတ်သိပ်ခြင်း မှက် ခြင် လေ နေပူ မြွေ ကင်း သန်းတို့၏ ကိုက်ခဲခြင်း အတွေ့တို့ကို လည်းကောင်း၊ မကောင်းသဖြင့် ဆိုအပ်, မကောင်းသဖြင့် ရောက်လာသော စကားတို့ကို လည်းကောင်း သည်းမခံနိုင်၊ ကိုယ်၌ ဖြစ်သော ပြင်းထန် ကြမ်းကြုတ် စပ်ရှား ကျင်နာ မသာယာဖွယ် မနှစ်သက်ဖွယ် ဖြစ်သော သေလောက်သော ဆင်းရဲဝေဒနာတို့ကိုသည်းမခံနိုင်သော သဘောရှိ၏။ ရဟန်းတို့ ဤအကျင့်ကိုသည်းမခံခြင်း ဟူသော အကျင့် ဟု ဆိုအပ်၏။

ရဟန်းတို့သည်းခံခြင်း ဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤလောက၌ အချို့သော သူသည် အချမ်း အပူ ဆာလောင်ခြင်း မွတ်သိပ်ခြင်း မှက် ခြင် လေ နေပူ မြွေ ကင်းသန်း တို့၏ ကိုက်ခဲခြင်း အတွေ့တို့ကို လည်းကောင်း၊ မကောင်းသဖြင့် ဆိုအပ်, မကောင်းသဖြင့် ရောက်လာသော စကားတို့ကို လည်းကောင်း သည်းခံနိုင်၏၊ ကိုယ်၌ ဖြစ်သော ပြင်းထန် ကြမ်းကြုတ် စပ်ရှား ကျင်နာ မသာယာဖွယ် မနှစ်သက်ဖွယ်ဖြစ်သော သေလောက်သော ဆင်းရဲဝေဒနာတို့ကိုသည်းခံနိုင်သော သဘောရှိ၏။ ရဟန်းတို့ ဤအကျင့်ကို သည်းခံခြင်း ဟူသော အကျင့်ဟု ဆိုအပ်၏။

ရဟန်းတို့ ဆုံးမခြင်းဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် မျက်စိဖြင့် အဆင်း'ရူပါရုံ'ကို မြင်သော် (မိန်းမ ယောကျ်ား စသော) သဏ္ဌာန်နိမိတ်ကို စွဲယူလေ့မရှိ။ပ။ နားဖြင့် အသံ 'သဒ္ဒါရုံ' ကို ကြားသော်။ပ။ နှာခေါင်းဖြင့် အနံ့'ဂန္ဓာရုံ'ကို နမ်းသော်။ပ။ လျှာဖြင့် အရသာ 'ရသာရုံ'ကို လျက်သော်။ပ။ ကိုယ်ဖြင့် အတွေ့ 'ဖောဋ္ဌဗ္ဗာရုံ' ကို တွေ့သော်။ပ။ စိတ်ဖြင့် သဘော 'ဓမ္မာရုံ' ကို သိသော် (မိန်းမ ယောကျ်ားစသော) သဏ္ဌာန်နိမိတ်ကို စွဲယူလေ့မရှိ၊ (လက်ခြေ စသော အင်္ဂါ ပြုံးဟန် ရယ်ဟန် စသော အမူအရာ) အမှတ်လက္ခဏာကို စွဲယူလေ့မရှိ၊ (အကယ်၍) မနိန္ဒြေကို မစောင့်စည်းဘဲနေလျှင် ယင်း (မနိန္ဒြေကို မစောင့်စည်းခြင်းဟူသော) အကြောင်းကြောင့် မက်မောခြင်း'အဘိဇ္ဈာ' နှလုံးမသာခြင်း 'ဒေါမနဿ'ဟူသော ယုတ်ညံ့သော အကုသိုလ်တရားတို့သည် ထို မစောင့်စည်းသူကို လိုက်၍ နှိပ်စက်ကုန်ရာ၏၊ (ထို့ကြောင့် ရဟန်းသည်) ထို မနိန္ဒြေကို စောင့်စည်းခြင်းငှါ ကျင့်၏၊ မနိန္ဒြေကို စောင့်စည်း၏။ မနိန္ဒြေ၌ စောင့်စည်းခြင်းသို့ ရောက်၏။ ရဟန်းတို့ ဤအကျင့်ကို ဆုံးမခြင်း ဟူသော အကျင့်ဟု ဆိုအပ်၏။

ရဟန်းတို့ ငြိမ်းစေခြင်းဟူသော အကျင့်ဟူသည် အဘယ်နည်း၊ ရဟန်းတို့ ဤသာသနာတော်၌ ရဟန်းသည် ဖြစ်ပေါ်လာသော ကာမဝိတက်ကို လက်မခံ၊ ပယ်စွန့်၏၊ ပယ်ဖျောက်၏၊ ငြိမ်းစေ၏၊ ကင်းအောင် ပြု၏၊ တစ်ဖန် မဖြစ်ခြင်းသို့ ရောက်စေ၏၊ ဖြစ်ပေါ်လာသော ဗျာပါဒဝိတက်ကို။ပ။ ဖြစ်ပေါ်လာသော ဝိဟိံသာဝိတက်ကို ဖြစ်တိုင်း ဖြစ်တိုင်းကုန်သော အကုသိုလ် တရားယုတ်တို့ကို လက်မခံ၊ ပယ်စွန့်၏၊ ပယ်ဖျောက်၏၊ ငြိမ်းစေ၏၊ ကင်းအောင် ပြု၏၊ တစ်ဖန် မဖြစ်ခြင်းသို့ ရောက်စေ၏။ ရဟန်းတို့ ဤအကျင့်ကို ငြိမ်းစေခြင်း ဟူသော အကျင့်ဟု ဆိုအပ်၏။ ရဟန်းတို့ အကျင့်တို့သည် ဤလေးမျိုး တို့တည်း ဟု (မိန့်တော်မူ၏)။

ပဉ္စမသုတ်။

------

